ကုမ္ပဏီအမည် - Myanmar CNFC Company Limited

လုပ်ငန်း - ပြည်တွင်းမှ ရေငန်ငါးများကို ပြုပြင်ထုတ်လုပ်အေးခဲ၍ ပြည်ပသို့ တင်ပို့ရောင်းချခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၂၅-၄-၂၀၁၄ | | |
| ၂ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) စီမံကိန်းစိစစ်ရေးနှင့် တိုးတက်မှု အစီရင်ခံရေးဦးစီး ဌာန | ၃၀-၄-၂၀၁၄ | | ၂ ရက် |
| | (ခ) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၂၉-၄-၂၀၁၄ | ၁၅-၆-၂၀၁၄ | ၁၆ ရက် |
| | (ဂ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီး ဌာန | ၂၉-၄-၂၀၁၄ | ၁၂-၅-၂၀၁၄ | ၁၃ ရက် |
| | (ဃ) မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသ ဖွံ့ဖြိုးရေး ဝန်ကြီးဌာန(ပထမအကြိမ်) | ၂၉-၄-၂၀၁၄ | ၈-၅-၂၀၁၄ | ၉ ရက် |
| | (င) မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေး ဝန်ကြီးဌာန(ဒုတိယအကြိမ်) | ၇-၇-၂၀၁၄ | ၁-၈-၂၀၁၄ | ၂၅ ရက် |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေးသို့ တင်ပြခြင်း | ၂-၅-၂၀၁၄ | | |
| ၄ | အဆိုပြုလွှာ လက်ခံကြောင်းပြန်ကြားခြင်း | ၇-၅-၂၀၁၄ | | |
| ၅ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး ဆုံးဖြတ်ချက်အရ လိုအပ်ချက်များ အကြောင်းကြားခြင်း | ၈-၅-၂၀၁၄ | | |
| ၆ | မြေအသုံးပြုခွင့်တင်ပြခြင်း | | | |
| | (က) ကော်မရှင်အစည်းအဝေး (၁၄/၂၀၁၄) သို့ တင်ပြခြင်း | ၁၉-၂-၂၀၁၄ | | |
| | (ခ) စီးပွားရေးရာကော်မတီ အစည်းအဝေး (၁၇/၂၀၁၄) သို့ တင်ပြခြင်း | ၂၈-၅-၂၀၁၄ | | |
| | (ဂ) ပြည်ထောင်စုအစိုးရအဖွဲ့ (၁၁/၂၀၁၄) သို့ တင်ပြခြင်း | ၄-၆-၂၀၁၄ | | |
| ၇ | ကုမ္ပဏီမှ ပြန်လည်ပြင်ဆင်၍ အဆိုပြုလွှာ ပေးပို့ခြင်း | ၁၀-၈-၂၀၁၄ | | |
| | စုစုပေါင်းကြာမြင့်ရက် ၁၀၇ ရက် | | | |

- မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာနသို့ သဘောထားတောင်းခံရာတွင် ရင်းနှီးမြှုပ်နှံသူမှ လိုအပ်သော အချက်အလက်များ ပြည့်စုံစွာဖော်ပြထားခြင်းမရှိသဖြင့် သဘောထားမှတ်ချက် ထပ်မံတောင်းခံရသောကြောင့် ၁၀၇ ရက် ကြာမြင့်ရခြင်းဖြစ်ပါသည်။

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | Myanmar CNFC Company Limited |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - | ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | ပြည်တွင်းမှ ရေငန်ငါးများကို ပြုပြင်ထုတ်လုပ်အေးခဲ၍ ပြည်ပသို့ တင်ပို့ရောင်းချခြင်း လုပ်ငန်း |
| တည်နေရာ | - | ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ လှိုင်သာယာစက်မှုဇုန် ၊ အပိုင်း (၃)၊ မြေကွက်အမှတ် (၃၂) |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | အမေရိကန်ဒေါ်လာ ၀.၅၀၀ သန်း |
| ရောင်းချမည့်စနစ် | - | ပြည်ပသို့ ၁၀၀ % ရောင်းချပါမည်။ |
| လုပ်ငန်းသက်တမ်း | - | ကနဦး ၁၀ နှစ် နှင့် နောက်ထပ် ၅နှစ် (၂) ကြိမ် သက်တမ်း တိုးမြှင့်ခွင့် |
| အရင်းကြေကာလ | - | ၄ နှစ်၊ ၄ လ |
| IRR | - | ၂၂ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၁.၉၂၀ သန်း | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ကျပ် ၁.၀၆၅ သိန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ် ၁၂.၈ သန်း | |
| ၄ | ဝင်ငွေခွန် | ကျပ်၁၂၆.၁၉၀ သန်း | ကျပ် ၈၃.၉၁ သန်း |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | | ကျပ် ၁၀၂၆ သန်း |
| ၇ | လုပ်ခလစာအပေါ် ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေကျပ်သိန်းနှစ်ဆယ်ထက်ကျော်ပါက အခွန်ပေးရမည့် ဝန်ထမ်း (၁၅) ဦး |
| ၈ | CSR (၂ %) | | ကျပ် ၃၀.၂၃၈ သန်း |
| ၉ | မြေနှင့်အဆောက်အဦ ငှားရမ်းခရငွေ | | ကျပ် ၂၈၆.၄၇ သန်း |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၁၇၅ဦး<br>ပြည်ပ ၁ ဦး<br>ပြည်တွင်းလုပ်သား (၁၇၅) ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသ အလုပ်အကိုင် အခွင့်အလမ်း နှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကိုအထောက်အကူပြုစေပါ သည်။<br>အလုပ်အကိုင် အခွင့်အလမ်းများ ပိုမိုရရှိစေပြီး ဆင်းရဲနွမ်းပါးမှု လျော့ချရေးကို အထောက်အကူ ပြုစေနိုင်ပါသည်။ |
| | စုစုပေါင်း | ကျပ် ၁၄၀.၉၁ သန်း | ကျပ် ၁၄၂၇.၆၈၃သန်း |
| | | | ၁ : ၁၀ |

အကြောင်းအရာ။ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar CNFC Company Limited တည်ထောင်၍ ပြည်တွင်းမှ ရေငန်ငါးများကို ပြုပြင်ထုတ်လုပ် အေးခဲ၍ ပြည်ပသို့ တင်ပို့ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁ | ကုမ္ပဏီ/ကမကထပြုသူ အမည် | - Myanmar CNFC Company Limited<br>- Mr. Quan gu Du (တရုတ်နိုင်ငံသား) |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - ရာခိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု<br>- China National Fisheries Corporation (၉၉ %)<br>- Zhong Yu Global Seafood Corporation (၁ %) |
| | လုပ်ငန်းအမျိုးအစား | - ပြည်တွင်းမှ ရေငန်ငါးများကို ပြုပြင်ထုတ်လုပ် အေးခဲ၍ ပြည်ပသို့ တင်ပို့ရောင်းချခြင်းလုပ်ငန်း |
| ၂ | တည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ လှိုင်သာယာစက်မှုဇုန် ၊ အပိုင်း (၃)၊ မြေကွက်အမှတ် (၃၂) |
| | မြေပိုင်ရှင် | - ဦးအောင်ဟုတ်စိန် (ခ) ဦးအေးစိန်(၃၁-၁၂-၁၉၉၉) နှစ် ၆၀ |
| | မြေအကျယ်အဝန်း | - မြေ ၂.၀၁၁ဧက (၈,၁၃၈.၂၃၅ စတုရန်းမီတာ)<br>- အဆောက်အဦ ၃ လုံး<br>Building No. 1 ၀.၅၃၇ ဧက (၂၁၇၃.၁၆၄စတုရန်းမီတာ)<br>Building No. 2 ၀.၅၉၇ ဧက (၂၄၁၅.၉၇၅ စတုရန်းမီတာ)<br>Office ၀.၀၄၆ ဧက ( ၁၈၆.၁၅၆ စတုရန်းမီတာ)<br>စုစုပေါင်း: ၁.၁၈၀ ဧက (၄၇၇၅.၂၉၅ စတုရန်းမီတာ) |
| ၃ | မြေနှင့် အဆောက်အဦ ငှားရမ်းခနှုန်း | - အဆောက်အဦငှားရမ်းခ - တစ်နှစ် ၁ စတုရန်းမီတာ US$ ၅.၅ နှုန်း<br>- မြေငှားရမ်းခ - တစ်နှစ် ၁ စတုရန်းမီတာ US$၅.၀ နှုန်း<br>- စုစုပေါင်းငှားရမ်းခ တစ်နှစ်လျှင် US$ ၄၁,၃၉၇ |
| | မြေငှားရမ်းကာလ/ လုပ်ငန်းသက်တမ်း | - ကနဦး ၁၀ နှစ် နှင့် နောက်ထပ် ၅နှစ် (၂) ကြိမ် သက်တမ်းတိုးမြှင့်ခွင့် |
| ၄ | တည်ဆောက်ရေးကာလ | - ၁ နှစ် |
| ၅ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ထည့်ဝင်သည့်အမျိုးအစား | - အမေရိကန်ဒေါ်လာ ၀.၅၀၀ သန်း |

| | | |
|---|---|---|
| | | နိုင်ငံခြား<br>US$(သန်း) |
| | စက်ပစ္စည်း (ပြည်ပ) | ၀.၁၉၃ |
| | ငွေသား | ၀.၂၉၂ |
| | ပရိဘောဂပစ္စည်းများ (ပြည်တွင်း) | ၀.၀၁၅ |
| | စုစုပေါင်း | ၀.၅၀၀ |
| ၆ | ဝန်ထမ်းအင်အား | - ၁၈၁ ဦး |
| | ပြည်တွင်း | - ၁၇၅ ဦး (အနိမ့်ဆုံးဝန်ထမ်း၏ လစာမှာ ၉၀,၀၀၀ ကျပ် ဖြစ်ပြီး အမြင့်ဆုံးဝန်ထမ်း၏ လစာမှာ ၄၀၀,၀၀၀ကျပ် ဖြစ်ပါသည်။) |
| | ပြည်ပ | - ၆ ဦး (ပြည်ပဝန်ထမ်းလစာ US $ ၁၂၅၀ ဖြစ်ပါသည်။) |
| ၇ | ရောင်းချမည့်နည်းစနစ် | - ပြည်ပသို့ ၁၀၀ % ရောင်းချပါမည်။ |
| ၈ | ကုမ္ပဏီ၏ဝင်ငွေ (၆ နှစ်မြောက်) | - US $ ၇.၄၁၇ သန်း |
| | ကုမ္ပဏီ၏အသုံးစရိတ်(၆ နှစ်မြောက်) | - US $ ၇.၂၈၅ သန်း |
| | ကုမ္ပဏီ၏ အသားတင်အမြတ် (၆ နှစ်မြောက်) | - US $ ၀.၁၃၂ သန်း |
| | | (1 US $ = 950 Kyats ဖြင့် တွက်ချက် ထားပါသည်။) |
| ၉ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် (ပုံမှန်နှစ်) | |
| | ဝင်ငွေခွန် | - US $ ၀.၀၄၄ သန်း |
| | အရင်းကြေကာလ | - ၄ နှစ်၊ ၄ လ |
| | အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း(IRR) | - ၂၂ % |
| ၁၀ | လျှပ်စစ်ဓာတ်အားလိုအပ်ချက် | - ၃၁၅ KVA |
| ၁၁ | CSR | - ၂ % |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၆(က)/မ-၁၃၉၂/ ၂၀၁၄(၁၆၃၅-၃၇)

ရက်စွဲ၊ ၂၀၁၄ ခုနှစ် ဖေဖော်ဝါရီ လ ၂၅ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သို့ တင်ပြသည့်

အမှာစာ

အကြောင်းအရာ။ Shwe Yamone Value Added Sea Food Co., Ltd. မှ Normal စနစ်နှင့် Contract Processing စနစ် (၂)မျိုးဖြင့် ငါး/ပုစွန် ပြုပြင်အေးခဲ ထုတ်လုပ်ခြင်း နှင့် အရည်အသွေးမြင့်မားသည့် တန်ဘိုးမြင့် ငါး၊ပုစွန် ကုန်ချောများထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ

၁။ Shwe Yamone Value Added Sea Food Co., Ltd. သည် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ ရွှေယမုံထုတ်လုပ်မှု ကုမ္ပဏီလီမိတက် အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်(၄)၊ ဆိပ်ကမ်းသာလမ်း၊ မြေကွက်အမှတ် (၁၇၄-ခ)ရှိ မြေဧရိယာ (၂.၀၀)ဧက အနက် မြေ (၀.၉၄)ဧက နှင့် ယင်းမြေပေါ်ရှိ စက်ရုံအား ငှားရမ်း၍ Normal စနစ် နှင့် Contract Processing စနစ် (၂)မျိုးဖြင့် ငါး/ပုစွန် ပြုပြင်အေးခဲ ထုတ်လုပ်ခြင်း နှင့် အရည်အသွေး မြင့်မားသည့် တန်ဘိုးမြင့် ငါး၊ပုစွန် ကုန်ချောများ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့် ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးထွန်းအေး (အဘ-ဦးအောင်ညို)မှ အဆိုပြုချက် တင်ပြလာခြင်းဖြစ်ပါသည်။ အဆိုပါအဆိုပြုလွှာကို အဆိုပြုချက် စိစစ်ရေးအဖွဲ့ ၏ ၃၃/၂၀၁၃ (၁၂-၁၂-၂၀၁၃) အစည်းအဝေး သို့ တင်ပြခဲ့ပြီး ဖြစ်ပါသည်။

၂။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် မြေနှင့် အဆောက်အဦ ငှားရမ်းခြင်း သက်တမ်းကာလမှာ ကနဦး (၁၀)နှစ် နှင့် နှစ်ဦးသဘောတူပါက တစ်ကြိမ်လျှင် (၅)နှစ် စီဖြင့် (၂)ကြိမ် သက်တမ်းတိုး၍ စုစုပေါင်း (၂၀)နှစ် ထိ ဆောင်ရွက်မည်ဖြစ်ပြီး တစ်နှစ်လျှင် မြေ နှင့် အဆောက်အဦ ငှားရမ်းခ ကျပ် (၂၄.၀၀)သိန်း ဖြင့် ပေးချေမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၃။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ US$ (၁.၁၁)သန်း အပါအဝင် စုစုပေါင်း ကျပ် (၁၁၀၀.၀၀) သန်း ဖြစ်ပါသည်။ လုပ်ငန်းအတွက် လိုအပ်သော စက်ပစ္စည်းများ US$(၁.၁၁)သန်းဖိုး အနက် US$(၁.၁၀)သန်းဖိုး ကို ဝယ်ယူတပ်ဆင်ပြီးဖြစ်ကြောင်း တင်ပြထားပြီး ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ တစ်ဖက်ပါ အတိုင်း ဖြစ်ပါသည်-

(က) ငွေသား ကျပ် ၃၆.၅၂ သန်း

(ခ) စက်ပစ္စည်းကိရိယာ ကျပ် ၁၀၅၆.၄၈ သန်း (US$ ၁.၁၁ သန်း အပါအဝင်)

(ဂ) ပရိဘောဂ နှင့် လုပ်ငန်းသုံး ပစ္စည်း ကျပ် ၇.၀၀ သန်း

**စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ကျပ် ၁၁၀၀.၀၀ သန်း (US$ ၁.၁၁ သန်း အပါအဝင်)**

၄။ လုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်း မှ လုပ်သား (၈၃၆) ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်း(၁)ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် (၉၀,၀၀၀) ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်းမှ Normal စနစ် နှင့် Contract Processing စနစ် (၂)မျိုးဖြင့် ငါး/ပုစွန် ပြုပြင်အေးခဲ ထုတ်လုပ်ခြင်း နှင့် အရည်အသွေး မြင့်မားသည့် တန်ဘိုးမြင့် ငါး၊ပုစွန် ကုန်ချောများကို ပြည်ပ သို့ (၁၀၀)ရာခိုင်နှုန်း တင်ပို့ ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ် (၇-နှစ်မြောက်) တွင် ထုတ်လုပ်မှု၊ ရောင်းဈေးနှုန်း နှင့် CMP လက်ခနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| **အမျိုးအစား** | **ထုတ်လုပ်မှု (MT)** | **ရောင်းဈေးနှုန်း (US$/MT)** |
|---|---|---|
| Normal | | |
| (1) Fish | 750 | 2310 |
| (2) Prawn (Breaded/Nobashi) | 440 | 2520 |
| **အမျိုးအစား** | **ထုတ်လုပ်မှု (MT)** | **CMP လက်ခနှုန်း (US$/MT)** |
| Contract Processing | | |
| (1) Fish | 500 | 1050 |
| (2) Prawn (Breaded/Nobashi) | 440 | 1260 |

၆။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ၇ နှစ်မြောက်တွင် ရရှိမည့် ဝင်ငွေ နှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

အမေရိကန်တစ်ဒေါ်လာ= ၉၅၀ကျပ်

| စဉ် | | နိုင်ငံခြားငွေဖြင့် US$ | ညီမျှသော ကျပ်(သန်း) | ကျပ်ငွေဖြင့် ကျပ်(သန်း) | စုစုပေါင်းကျပ် ကျပ်(သန်း) |
|---|---|---|---|---|---|
| (က) | ဝင်ငွေ | ၃,၉၂၀,၇၀၀ | ၃၇၂၄.၆၆ | - | ၃၇၂၄.၆၆ |
| (ခ) | အသုံးစရိတ် | ၁၁၁,၂၀၈ | ၁၀၅.၆၅ | ၃၄၃၅.၅၃ | ၃၅၄၁.၁၈ |
| (ဂ) | အသားတင်အမြတ် | ၃,၈၀၉,၄၉၂ | ၃၆၁၉.၀၁ | (၃၄၃၅.၅၃) | ၁၈၃.၄၈ |

၇။ နိုင်ငံတော်မှ ၇ နှစ်မြောက်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် (၆၁.၁၆) သန်း ရရှိမည် ဖြစ်ပါသည်။ လုပ်ငန်း ၏ အရင်းကြေကာလမှာ (၃)နှစ် နှင့် (၁၀)လ ဖြစ်ပြီး အရင်းအနှီး အပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၂၂.၅၁) ရာခိုင်နှုန်း ဖြစ်ပါသည်။

၈။ ယင်းအဆိုပြုလုပ်ငန်း နှင့် စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

**(က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ (နောက်ဆက်တွဲ - က)**

(၁) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့် နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိ မြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါကြောင်း၊

(၂) အဆိုပြုလုပ်ငန်း လည်ပတ်လုပ်ကိုင်ပါက ပြည်တွင်းလုပ်သား (၈၃၆)ဦး အလုပ်အကိုင်ရရှိမည်ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်း နှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်စေပါသည်။

(၃) အဆိုပြု လုပ်ငန်း လုပ်ကိုင်ရန် အတွက် မြေနှင့် အဆောက်အဦ ပိုင်ရှင် ဦးအောင်သက်မန်း (ရွှေယမုံထုတ်လုပ်မှု ကုမ္ပဏီ) ထံမှ ဦးထွန်းအေး (ရွှေယမုံတန်ဖိုးမြင့် ပင်လယ်စာကုမ္ပဏီ) က မြေငှားရမ်းခအဖြစ် တစ်လလျှင် ကျပ်သိန်း (၂၀)နှုန်းဖြင့်(၁၀)နှစ်ငှားရမ်းသုံးစွဲခြင်းအပေါ် ဒေသခံပြည်သူများက လူမှုရေး၊ စီးပွားရေး၊သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရလက်ခံနိုင်ခြင်းရှိပါကြောင်း၊

(၄) အဆိုပြုလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်နိုင်ခြင်း မရှိပါကြောင်း၊

(၅) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ၄/၂၀၁၄(၂၃-၁-၂၀၁၄) အစည်းအဝေး ဆုံးဖြတ်ချက်အပိုဒ် (၄၆)အရ Shwe Yamone Value Added Sea Food Co., Ltd ၏ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း၊

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန (နောက်ဆက်တွဲ-ခ)**

(၁) အဆိုပြုလွှာပါ လုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေး နှင့် ကျန်းမာရေးထိခိုက်မှုများကို ရှောင်ရှားနိုင်ရန် အတွက် စီမံကိန်း ဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး၊ လုပ်ငန်း ဆောင်ရွက်ရာ တွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် စက်ပစ္စည်း ကိရိယာများ နှင့် နည်းပညာများကို အသုံးပြုရန်၊

(၂) အဆိုပြုစီမံကိန်း လုပ်ငန်းကြောင့် ပတ်ဝန်းကျင် နှင့် လူမှုရေး ထိခိုက်မှု မဖြစ်ပေါ်စေရေးနှင့် ပတ်ဝန်းကျင် နှင့် လူမှုရေးထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့အတွက် ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း(Initial Environmental Examination - IEE) လုပ်ငန်းကို ကုမ္ပဏီနှင့် ပါဝင်ပတ်သက်ခြင်း မရှိသော တတိယ အဖွဲ့အစည်း ဖြင့် ဆောင်ရွက်ရန်၊

(၃) အဆိုပါ ဆန်းစစ်တွေ့ရှိချက်များကို အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှု မဖြစ်စေရန် (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရန်အတွက် ဆောင်ရွက်မည့် အစီအမံများ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲ တင်ပြရန် နှင့် အစီအစဉ်အတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(၄) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာအကောင်အထည် ဖော် ဆောင်ရွက်ရန်၊

**[ကုမ္ပဏီ မှ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန ၏ သဘောထား မှတ်ချက်အရ ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination-IEE) နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)ကို ရေးဆွဲတင်ပြမည် ဖြစ်ပါကြောင်း (၁၇-၂-၂၀၁၄)ရက်နေ့ စာဖြင့် တင်ပြထားပါသည်။]**

(ဂ) CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ (နောက်ဆက်တွဲ-ဂ)

(၁) ကုန်ကြမ်း လိုအပ်ချက် နှင့် ကုန်ချော ထွက်ရှိမှု အချိုးအစား ညီညွတ်မှု ရှိပါကြောင်း၊

(၂) CMP လက်ခနှုန်းထားများမှာ ဆီလျော်မှုရှိပါကြောင်း၊

(၃) နှစ်စဉ်ထုတ်လုပ်မှု နှင့် လူအင်အား စက်အင်အား အချိုးအစား ညီညွတ်မှု ရှိပါကြောင်း နှင့် Shwe Yamone Value Added Sea Food Co., Ltd.၏ Normal / Contract Processing စနစ် (၂)မျိုးဖြင့် ငါး/ပုစွန် ပြုပြင်အေးခဲ ထုတ်လုပ်ခြင်းလုပ်ငန်း လုပ်ကိုင်ခွင့်ကို အားပေးဆောင်ရွက်သင့်ပါကြောင်း၊

**(ဃ) မွေးမြူရေးရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန(နောက်ဆက်တွဲ- ဃ)**

(၁) ရေချို/ရေငန်ငါး ကုန်ကြမ်း တစ်နှစ်လျှင် ပျမ်းမျှ(၁၄၆၀)တန်မှ ကုန်ချော (၇၃၀) တန် ခန့် ထွက်ရှိမည် ဖြစ်ပါသဖြင့် တစ်ရက်လျှင် ကုန်ချော(၂.၄၃)တန် ခန့် ထွက်ရှိမည် ဖြစ်ပါကြောင်း၊

(၂) နှစ်စဉ် ကုန်ကြမ်း လိုအပ်ချက် နှင့် ကုန်ချော ထွက်ရှိမှု အချိုးအစား ညီညွတ်မှု ရှိပါကြောင်း၊

(၃) အဆိုပြုချက်တွင် ဖော်ပြထားသော ကုန်ကြမ်း နှင့် ကုန်ချော ဈေးနှုန်းမှာ ဆီလျော်မှု ရှိပါကြောင်း၊

(၄) ကုန်ချော ထုတ်လုပ်မှုတွင် စက်အင်အား၊ လူအင်အား အချိုးအစား ညီမျှမှုရှိပါကြောင်း၊

(၅) အဆိုပြုလုပ်ငန်းနှင့်စပ်လျဥ်း၍ စီးပွားရေး တွက်ခြေကိုက်မှုရှိကြောင်း၊

(၆) တည်ဆောက်မည့် စက်ရုံတွင် ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရန် ရေဆိုးများကို သန့်စင်သော စနစ်၊ အနံ့ဆိုးများကို သန့်သောစနစ်၊ မီးဘေးကြိုတင်ကာကွယ်မှု ဆောင်ရွက်ထားရှိမည့် အစီအမံများကို စိစစ်တွေ့ရှိရပါကြောင်း၊

(၇) စက်ရုံကို EU Standard နှင့်အညီ တည်ဆောက်မည်ဖြစ်ပြီး၊ Contract Processing ပြုလုပ်ပါက ကုန်ကြမ်း ရှားပါးချိန်တွင် စက်စွမ်းအားပြည့် လည်ပတ်နိုင်ခြင်း၊ နိုင်ငံသားများအနေ နှင့် အလုပ်အကိုင် အခွင့်အလမ်းများ ပိုမို ရရှိခြင်း၊ ထုတ်လုပ်မှု နည်းပညာများ ရရှိခြင်းတို့ကြောင့် အဆိုပြုလုပ်ငန်း ဆောင်ရွက်မှုသည် သင့်လျော်မှု ရှိပါကြောင်း၊

(၈) အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းအား မွေးမြူရေး၊ ရေလုပ်ငန်း နှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာနမှ ကန့်ကွက်ရန် မရှိပါကြောင်း နှင့် အောက်ဖော်ပြပါလုပ်ငန်း အစီအမံများ အတိုင်း လိုက်နာ ဆောင်ရွက်မည် ဆိုပါက ငါးလုပ်ငန်းဦးစီးဌာနမှ စိစစ်ပေးနိုင်ပါကြောင်း-

(က) ရေထွက်ပစ္စည်းများ Contract Processing စနစ်ဖြင့် တင်သွင်းပါက ငါးလုပ်ငန်းဦးစီးဌာနသို့ အစစ်ဆေးခံရန် လျှောက်ထားစေခြင်း၊

(ခ) ပြည်ပမှ ရောက်ရှိလာသော ရေထွက် ပစ္စည်းများအား FIQC ဌာနခွဲလက်အောက်ရှိ စစ်ဆေးရေးနှင့် အသိအမှတ်ပြု လက်မှတ်ထုတ်ပေးရေးဌာနစု မှ (၁)ဦး၊ ပို့ကုန်စစ်ဆေးရေးဌာနစုမှ (၁)ဦး နှင့် ဓါတ်ခွဲခန်းဌာနစု မှ (၁)ဦး ပါဝင်သော စစ်ဆေးရေးအဖွဲ့အား သွားရောက်စစ်ဆေးစေခြင်း၊

(ဂ) ဓါတ်ခွဲခန်းအဖွဲ့ဝင်မှ TPC, Coliform, E-Coli ပိုးများစစ်ဆေးရန် နမူနာကောက်ယူခြင်း၊

(ဃ) ဓါတ်ခွဲခန်း စစ်ဆေးချက်ရလာဒ်အား ညွှန်ကြားရေးမှူး FIQC ထံ တင်ပြအစီရင်ခံခြင်း၊

(င) ကုန်ပစ္စည်းများ၏ အရေအတွက်၊ အရည်အသွေး၊ Sensory ၊ အလေးချိန်များအား Invoice , Packing List များဖြင့် တိုက်ဆိုင်စစ်ဆေးခြင်း၊

(စ) တင်သွင်းလာသော ရေထွက် ကုန်ပစ္စည်း ၏ အထောက်အထား ဖြစ် သည့် Country of Origin နှင့် Health Certificate များကို စစ်ဆေး ခြင်း၊

(ဆ) Contract Processing ပြုလုပ်မည့် ရေထွက်ပစ္စည်းများ ထုတ်လုပ်ရာတွင် စားသုံးသူများ ဘေးအန္တရာယ် ကင်းရှင်းစေသည့် ထုတ်လုပ်မှုစနစ်ဖြင့် ထုတ်လုပ်မှု ရှိ/မရှိ စစ်ဆေးခြင်း၊

(ဇ) တင်သွင်းလာသော ငါး/ပုစွန် ကုန်ကြမ်းများ၏ Specification စံချိန်စံညွှန်းများနှင့် ကိုက်ညီမှု ရှိ/မရှိ စစ်ဆေးခြင်း၊

(ဈ) တင်သွင်းလာသော Ingredient များ၏ Specification စံချိန် စံညွှန်းများ နှင့် ကိုက်ညီမှု ရှိ/မရှိ စစ်ဆေးခြင်း၊

(ည) တင်သွင်းလာသည့် Packing ထုတ်ပိုး ပစ္စည်းများ ၏ Specification စံချိန်စံညွှန်းများနှင့် ကိုက်ညီမှု ရှိ/မရှိ စစ်ဆေးခြင်း၊

(ဋ) By Product ဘေးထွက် ပစ္စည်းများ၏ ထွက်ရှိမှု၊ အသုံးချမှုအား စစ်ဆေးခြင်း၊

(ဌ) ပြုပြင်ထုတ်လုပ်သည့် ငါး/ပုစွန် အမျိုးအစားများအား ပြန်လည် တင်ပို့ရာတွင် ဓါတ်ခွဲစစ်ဆေးရန် နှင့် Health Certificate ထုတ်ပေးခြင်း၊

(ဍ) Contract Processing စနစ်ဖြင့် တင်သွင်းလာသော ကုန်ပစ္စည်းများအား ပြည်တွင်း၌ ရောင်းချခြင်း မပြုစေရန် နှင့် ရောင်းချပါက အခွန်လုပ်ထုံးလုပ်နည်းနှင့်အညီ ဆောင်ရွက်စေခြင်း၊

(ဎ) စက်ရုံမှ ပြုပြင်ထုတ်လုပ်ပြီး ကုန်ချောများအား ပြည်ပသို့ တင်ပို့သည့် အခါတိုင်းမူလပစ္စည်းမှန်မမှန်၊ အလေးချိန်နှင့် စံချိန်စံညွှန်းများကို စစ်ဆေးခြင်း၊

(ဏ) ပြုပြင်ထုတ်လုပ်ရာတွင် ပြည်တွင်းမှ ကုန်ကြမ်းများ ပါဝင်မှု မရှိစေရန် ကြီးကြပ်ပေးခြင်း၊

(တ) Contract Processing စနစ်ဖြင့် ရေထွက်ပစ္စည်းများအား ပြန်လည် တင်ပို့ပါက ငါးလုပ်ငန်းဦးစီးဌာနသို့ အစစ်ဆေးခံရန် လျှောက်ထားစေခြင်း နှင့် သွားရောက် စစ်ဆေးခြင်း၊

(ထ) ရေထွက်ပစ္စည်း ကုန်ကြမ်း အဝင်စာရင်းများ၊ နေ့စဉ်ထုတ်လုပ်မှုစာရင်းများ ပြန်လည် တင်ပို့မှုစာရင်းများအား စစ်ဆေးခြင်း၊

(င) **ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံကုန်သည်များ နှင့် စက်မှုလက်မှု လုပ်ငန်းရှင်များ အသင်းချုပ် (နောက်ဆက်တွဲ - င)**

Shwe Yamone Value Added Sea Food Co., Ltd. မှ ရန်ကုန်တိုင်း ဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်(၄)၊ ဆိပ်ကမ်းသာလမ်း၊ မြေကွက်အမှတ် (၁၇၄-ခ)ရှိ မြေဧရိယာ (၂.၀၀)ဧက အနက် မြေ (၀.၉၄)ဧက နှင့် ယင်းမြေပေါ်ရှိ စက်ရုံအား ငှားရမ်း၍ Normal စနစ် နှင့် Contract Processing စနစ် (၂)မျိုးဖြင့် ငါး/ပုစွန် ပြုပြင်အေးခဲ ထုတ်လုပ် ခြင်း နှင့် အရည်အသွေး မြင့်မားသည့် တန်ဖိုးမြင့် ငါး၊ပုစွန် ကုန်ချောများ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် လျှောက်ထားခြင်း အပေါ် ကန့်ကွက်ရန် မရှိပါကြောင်း၊

၉။ လျှပ်စစ်ဓါတ်အားကို မဟာဓါတ်အားလိုင်းမှ ရယူသုံးစွဲမည်ဖြစ်ပြီး မဟာဓါတ်အားလိုင်းမှ လျှပ်စစ်ဓါတ်အားမရရှိချိန်တွင် ကိုယ်ပိုင် Generator ဖြင့်လည်း သုံးစွဲမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၀။ Normal စနစ် နှင့် Contract Processing စနစ် (၂)မျိုးဖြင့် ငါး/ပုစွန် ပြုပြင်အေးခဲ ထုတ်လုပ်ခြင်း နှင့် အရည်အသွေးမြင့်မားသည့် တန်ဘိုးမြင့် ငါး၊ပုစွန် ကုန်ချောများ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန်အတွက် စင်္ကာပူ နိုင်ငံမှ Diamond River Seafood Pte Ltd. နှင့် Shwe Yamon Value Added Sea Food Co., Ltd. တို့ ချုပ်ဆိုထားသည့် Memorandum of Agreement တင်ပြထားပါသည်။

၁၁။ ငွေကြေးအထောက်အထားအဖြစ် အုပ်ချုပ်မှုဒါရိုက်တာဦးထွန်းအေးနှင့် ဒေါ်ကေသွယ်ဝင်း အမည်ဖြင့် KBZ Bank Ltd. ရှိ (၉-၁၂-၂၀၁၃)နေ့ ငွေလက်ကျန် ကျပ်(၂၁၀.၄၅)သန်း တင်ပြထားရာ သုံးစွဲမည့် ကျပ်(၄၃.၅၂)သန်းအတွက် လုံလောက်မှု ရှိကြောင်း တွေ့ရှိရပါသည်။ နိုင်ငံခြားငွေ အထောက်အထားအဖြစ် ကုမ္ပဏီ အမည်ဖြင့် Asia Green Development Bank ရှိ (၁၀-၁-၂၀၁၄)နေ့ ငွေလက်ကျန် ကျပ်(၀.၂၀)သန်း တင်ပြထားရာ သုံးစွဲရန်ကျန်သည့် နိုင်ငံခြားငွေ US$ (၀.၀၂)သန်းအတွက် လုံလောက်မှုရှိကြောင်း တွေ့ရှိရပါသည်။

၁၂။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ကြောင်း၊ လုပ်ငန်းမှ ထွက်ရှိလာသော ကုန်ချောများကို ပြည်ပသို့ ၁၀၀% တင်ပို့မည် ဖြစ်ပါကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ်ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များကို လိုက်နာ ဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း၊ ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/တိုင်းဒေသကြီးရ စက်မှုကြီးကြပ်ရေး နှင့် လုပ်ငန်း စစ်ဆေးမှု ညွှန်ကြားရေးဦးစီးဌာနတွင် မှတ်ပုံတင် ထားရှိမည် ဖြစ်ပါကြောင်း၊ လုပ်ငန်းခွင် သာယာရေး နှင့် ဝန်ထမ်းများ သက်သာ ချောင်ချိရေး အစီအစဥ်၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပွားစေရန် အတွက် လိုအပ်သော အစီအမံများ၊ မီးဘေး အန္တရာယ် မဖြစ်ပွားစေရန် နှင့် မီးဘေးကြိုတင် ကာကွယ်ရေး အစီအစဥ်များ တင်ပြထားပါသည်။

၁၃။ ကုမ္ပဏီမှ လုပ်ငန်းလုပ်ဆောင်၍ ရရှိလာသည့် အမြတ်ငွေ၏ ၂% ကို Cooperate Social Responsibility (CSR) လုပ်ငန်းတွင် ထည့်ဝင်မည်ဖြစ်ကြောင်း ဝန်ခံကတိ တင်ပြထားပါသည်။

၁၄။ **စိစစ်တင်ပြချက်**

(က) အဆိုပြုတင်ပြလာသည့် လုပ်ငန်းအမျိုးအစားကဲ့သို့ U Ni & Daw Phyu Family Co., Ltd ၊ Grand Wynn Mfg Co., Ltd . ၊ May Yu Marine Products Co.,

Ltd နှင့် Htun Nay Linn Co., Ltd. ကုမ္ပဏီ (၄)ခုအား ကော်မရှင် ခွင့်ပြုမိန့်များ ထုတ်ပေးခဲ့ပြီး ဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်းသည် လုပ်ငန်းအတွက် လိုအပ်သော စက်ပစ္စည်းများ US$ (၁.၁၀) သန်း ဝယ်ယူပြီးကြောင်း အထောက်အထား နှင့် ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်း စာရင်းကို တင်ပြထားပါသည်။

၁၅။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၁)၊ ပုဒ်မ ၂၀ (က၊ ဂ၊ ဃ၊ စ၊ ဆ၊ ဈ၊ ဈ၊ ည၊ ဋ ) အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထား လျှင် ခွင့်ပြုနိုင်မည် ဖြစ်ပါမည်။

၁၆။ သို့ဖြစ်ပါ၍ Shwe Yamone Value Added Sea Food Co., Ltd. သည် ရန်ကုန်တိုင်း ဒေသကြီး၊ လှိုင်သာယာမြို့နယ်တွင် Normal စနစ် နှင့် Contract Processing စနစ် (၂)မျိုးဖြင့် ငါး/ပုစွန် ပြုပြင်အေးခဲ ထုတ်လုပ်ခြင်း နှင့် အရည်အသွေး မြင့်မားသည့် တန်ဘိုးမြင့် ငါး၊ပုစွန် ကုန်ချောများ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်း အပေါ် လမ်းညွှန်မှုခံယူအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ ညွှန်ကြားရေးမှူးချုပ်)

မိတ္တူကို
ရုံးလက်ခံ